အကြောင်းအရာ။ ရခိုင်နှုန်းပြည့်မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ကျားမင်းကြီး ကုမ္ပဏီလီမိတက် (Kyar Min Gyi Company Limited) မှ Single Malt Whiskey အရက်ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br>ကမကထပြုသူ | - ကျားမင်းကြီး ကုမ္ပဏီလီမိတက်<br>(Kyar Min Gyi Company Limited)<br>- ဦးတင်ဝင်း |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | - ရခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| | လုပ်ငန်းအမျိုးအစား | - Single Malt Whiskey အရက်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - ဦးပိုင်အမှတ် ၂/၁၊ ၃၊ ၄၊ ၅၊ ကွင်းအမှတ် ၇၅/၁၊ တောင်ခြေအနောက်ကွင်း၊ ဦးပိုင်အမှတ်၁၄၊၁၆၊ ကွင်းအမှတ် ၂၆၅၊ လွိုင်ကော်တောင်ကွင်း၊ တောင်လေးလုံးကျေးရွာအုပ်စု၊ တောင်ကြီးမြို့နယ်၊ တောင်ကြီးခရိုင်၊ ရှမ်းပြည်နယ်တောင်ပိုင်း |
| ၃။ | မြေပိုင်ရှင် | - ဦးတင်ဝင်း (မန်နေးဂျင်းဒါရိုက်တာ) |
| | မြေအကျယ်အဝန်း | - စုစုပေါင်းမြေဧရိယာ ၂၀.၉၅ ဧက (၈၄၇၈၁.၇၁၇ စတုရန်းမီတာ) |
| ၄။ | တည်ဆောက်ရေးကာလ | - ၂နှစ် |
| ၅။ | စုစုပေါင်းမတည်ငွေရင်း<br>ပမာဏ | - ကျပ်၆,၇၀၀သန်း<br>(အမေရိကန်ဒေါ်လာ၂.၁၀၀ သန်းအပါအဝင်)<br><br>**ကျပ်/သန်း**<br>ငွေသား ၃,၅၉၅.၂၈၅ (US$ ၀.၅၀၀ သန်းအပါအဝင်)<br>စက်ပစ္စည်း ၂,၄၀၀.၀၀၀ (US$ ၁.၆၀၀ သန်းအပါအဝင်)<br>အဆောက်အဦတန်ဖိုး ၅၀၀.၀၀၀<br>ရုံးသုံးပစ္စည်းတန်ဖိုး ၄.၇၁၅<br>မြေ ၂၀၀.၀၀၀<br>စုစုပေါင်း **၆,၇၀၀.၀၀၀** (US$ ၂.၁၀၀ သန်းအပါအဝင်) |
| | ဝန်ထမ်းအင်အား | - ၆၀ ဦး |
| | ပြည်တွင်း | - ၅၈ ဦး (ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၅၀,၀၀၀ ဖြစ်ပြီးအမြင့်ဆုံးလစာမှာ ကျပ် ၆၀၀,၀၀၀ ဖြစ်ပါသည်။) |

| | | |
|---|---|---|
| ၆။ | ပြည်ပ | - ၂ ဦး (ပြည်ပဝန်ထမ်းတစ်ဦး၏ လစာမှာ အမေရိကန်ဒေါ်လာ ၁၅၀၀ ဖြစ်ပါသည်။) |
| ၇။ | ရောင်းချမည့်စနစ်<br>နှစ်စဉ်ထုတ်လုပ်မှု<br>(ပထမနှစ်) | - ၉၀% ပြည်ပ တင်ပို့၊ ၁၀% ပြည်တွင်းရောင်း၊ |
| | | ပစ္စည်း အမျိုးအစား / အရေအတွက် / ရောင်းချမည့် ဈေးနှုန်း |
| | ပြည်ပတင်ပို့- ၉၀ % | Single Malt Whiskey (Barrel-200 liter) / ၄,၃၂၀ (drum) / ၁,၅၀၀ (US$/drum) |
| | ပြည်တွင်းရောင်း- ၁၀ % | Single Malt Whiskey (one liter) / ၉၆,၀၀၀ (bottle) / ၁၁,၀၀၀ (ကျပ်/ bottle) |
| ၈။ | အခြားတင်ပြချက် | - မြေအထောက်အထားအဖြစ် ကျားမင်းကြီး ကုမ္ပဏီလီမိတက် (Kyar Min Gyi Company Limited) မှ အုပ်ချုပ်မှုဒါရိုက်တာ ဦးတင်ဝင်း အမည်ဖြင့် မြေစာရင်းပုံစံ-၁၀၅နှင့် လယ်ယာမြေကို သတ်မှတ်သည့် နည်းလမ်းအတိုင်း အသုံးချရန် ဆင့်ဆိုသောအမိန့် (စားသောက်ကုန်စက်ရုံမြေ အဖြစ်အသုံးပြုရန်)ကိုတင်ပြထားပါသည်။<br>- ကုမ္ပဏီ၏ မန်နေးဂျင်းဒါရိုက်တာ ဦးတင်ဝင်းအမည်ဖြင့် ရရှိထားသော ပြည်ထဲရေးဝန်ကြီးဌာန၊ အထွေထွေအုပ်ချုပ်ရေး ဦးစီးဌာန၏ D1 (အရက်ချက် စက်ရုံလက်ရှိထား၍ လုပ်ကိုင်ခွင့်လိုင်စင်)၊ D1A (နိုင်ငံခြားအရက်ပြင်းကို ထုတ်လုပ်ရန်၊ ပေါင်းစပ်ရန်၊ ရောနှောရန်၊ အရောင်ဆိုးရန်၊ အနံ့ထည့်ရန်၊ အရက်ချက် စက်ရုံ ပိုင်ဆိုင်ခွင့်၊ ချက်လုပ်ခွင့်နှင့် လိုင်စင်ရရှိထားသူများကိုသာ လက်ကားရောင်းချခွင့်လိုင်စင်) နှင့် FL-6 (မြန်မာနိုင်ငံအတွင်း ထုတ်လုပ်သည့် နိုင်ငံခြားအရက်/ ဘီယာလက်ကား ရောင်းချခွင့် လိုင်စင်) တို့အား တင်ပြထားပါသည်။<br>- ငွေရေးကြေးရေး အထောက်အထားအဖြစ် ဦးတင်ဝင်း အမည် ဖြင့် မြန်မာ နိုင်ငံ၊ KBZ ဘဏ် တွင် ၈-၁-၂၀၁၉ ရက်စွဲဖြင့် ကျပ် ၈၇,၂၆၀,၃၂၉.၀၆ ရှိကြောင်း တင်ပြထားပါသည်။<br>- ဒါရိုက်တာအဖွဲ့ဝင်များ၏ မှတ်ပုံတင်မိတ္တူများ တင်ပြထားပါသည်။ |

| | | |
|---|---|---|
| ၉။ | စိစစ်တင်ပြချက် | - ကျားမင်းကြီး ကုမ္ပဏီလီမိတက် (Kyar Min Gyi Company Limited) သည် ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် Single Malt Whiskey အရက်ချက်စက်ရုံ ဆောက်လုပ်၍ ရင်းနှီးမြှုပ်နှံခွင့်ပြုရန် တင်ပြလာရာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၉ ခုနှစ် ဇန်နဝါရီလ ၁၅ ရက်နေ့တွင် ကျင်းပသော (၁/၂၀၁၉) ကြိမ်မြောက် အစည်းအဝေးမှ မူအားဖြင့် သဘောတူပါသဖြင့် အဆိုပြုလျှောက်ထားလွှာ တင်ပြနိုင်ကြောင်း ဆုံးဖြတ်ချက်အရ တင်ပြလာခြင်းဖြစ်ပါသည်။<br>- ကျားမင်းကြီး ကုမ္ပဏီလီမိတက် (Kyar Min Gyi Company Limited) သည် ကုန်အမှတ်တံဆိပ် အနေဖြင့် Kanbawza Distillery အမှတ်တံဆိပ်ကို အသုံးပြုကြောင်း တင်ပြထားသည်။<br>- ကျားမင်းကြီး ကုမ္ပဏီလီမိတက် (Kyar Min Gyi Company Limited) သည် ပတ်ဝန်းကျင် ထိန်းသိမ်းရေးလုပ်ငန်းများ ဆောင်ရွက်မည်ဖြစ်ကြောင်း ကတိပြုခြင်း၊ CSR နှင့် စပ်လျဉ်း၍ ကတိပြုခြင်း၊ မီးဘေးကာကွယ်ရေး စီမံချက်တို့ကို တင်ပြထားပါသည်။<br>- မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပြန်ထားသည့်အမိန့်ကြော်ငြာစာအမှတ် (၁၃/၂၀၁၇)အရ ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍသတ်မှတ်ခြင်းတွင် မပါဝင်သဖြင့် ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ အားပေးရန် မလိုကြောင်းနှင့် လုပ်ငန်းအမျိုးအစားအနေဖြင့် အမိန့်ကြော်ငြာစာအမှတ် (၅၁/၂၀၁၄) အရ အကောက်ခွန် ကင်းလွတ်ခွင့်၊ သက်သာခွင့်နှင့် ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့်၊ သက်သာခွင့်မပေးသော အုပ်စုများတွင် ပါဝင်ကြောင်း စိစစ်တွေ့ရှိရပါသည်။<br>- ငွေလဲလှယ်နှုန်းအနေဖြင့် အမေရိကန်တစ်ဒေါ်လာလျှင် ကျပ် ၁,၅၀၀ ဖြင့် ဖော်ပြထားပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊မရက-၂/အ-၀၄၁/၂၀၁၉(၁၉၀)

ရက်စွဲ ၊ ၂၀၁၉ ခုနှစ် ဇူလိုင်လ ၄ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**

**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **ရခိုင်နှုန်းပြည့်မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် ကျားမင်းကြီးကုမ္ပဏီ လီမိတက် (Kyar Min Gyi Company Limited) မှ Single Malt Whiskey အရက်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြု လျှောက်ထားလွှာ တင်ပြလာခြင်းကိစ္စ**

၁။ ရခိုင်နှုန်းပြည့်မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် ကျားမင်းကြီး ကုမ္ပဏီ လီမိတက် (Kyar Min Gyi Company Limited) မှ ဦးပိုင်အမှတ်၂/၁၃၄၅ ၊ ကွင်းအမှတ် ၇၅/၁၊ တောင်ခြေအနောက်ကွင်း၊ ဦးပိုင်အမှတ် ၁၄၁၆၊ ကွင်းအမှတ် ၂၆၅၊ လှိုင်ကော်တောင်ကွင်း၊ တောင်လေးလုံးကျေးရွာအုပ်စု၊ တောင်ကြီးမြို့နယ်၊ တောင်ကြီးခရိုင်၊ ရှမ်းပြည်နယ်တောင်ပိုင်းရှိ စုစုပေါင်းမြေဧရိယာ (၂၀.၉၅) ဧက (၈၄၇၈၁.၇၁၇ စတုရန်း မီတာ)တွင် **Single Malt Whiskey** အရက်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြု ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အတည်ပြုချက် တင်ပြလာပါသည်။

၂။ အတည်ပြုချက်နှင့်အတူ မြေဆိုင်ရာ အထောက်အထားများ၊ နိုင်ငံသားမှတ်ပုံတင် မိတ္တူ များနှင့် ကျားမင်းကြီးကုမ္ပဏီ၏ အုပ်ချုပ်မှုဒါရိုက်တာဖြစ်သူ ဦးတင်ဝင်းအမည်ဖြင့် **D1** (အရက်ချက် စက်ရုံလက်ရှိထား၍ လုပ်ကိုင်ခွင့်လိုင်စင်) ၊ **D1A** (နိုင်ငံခြား အရက်ပြင်းကို ထုတ်လုပ်ရန်၊ ပေါင်းစပ် ရန်၊ ရောနှောရန်၊ အရောင်ဆိုးရန်၊ အနံ့ထည့်ရန်၊ အရက်ချက်စက်ရုံပိုင်ဆိုင်ခွင့်၊ ချက်လုပ်ခွင့် နှင့် လိုင်စင်ရရှိထားသူများကိုသာ လက်ကားရောင်းချခွင့်လိုင်စင်) နှင့် **FL-6** (မြန်မာနိုင်ငံအတွင်း ထုတ်လုပ်သည့် နိုင်ငံခြား အရက်/ဘီယာ လက်ကားရောင်းချခွင့်လိုင်စင်) တို့အား ရရှိထားကြောင်း တင်ပြထားပါသည်။

၃။ ကုမ္ပဏီ၏ တည်ဆောက်ရေးကာလမှာ ၂နှစ် ဖြစ်ပါသည်။

၄။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းပမာဏမှာ ကျပ် ၆,၇၀၀.၀၀ သန်း ဖြစ်ပါသည်။ မတည်ငွေရင်းထည့်ဝင်မှုများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | **ကျပ် သန်း** |
|---|---|
| ငွေသား | ၃,၅၉၅.၂၈၅ (US$ ၀.၅၀၀ သန်း အပါအဝင်) |
| စက်ပစ္စည်း | ၂,၄၀၀.၀၀၀ (US$ ၁.၆၀၀ သန်း အပါအဝင်) |
| အဆောက်အဦတန်ဖိုး | ၅၀၀.၀၀၀ |
| ရုံးသုံးပစ္စည်းတန်ဖိုး | ၄.၇၁၅ |
| မြေ | ၂၀၀.၀၀၀ |
| **စုစုပေါင်း** | ၆,၇၀၀.၀၀၀ (US$ ၂.၁၀၀ သန်း အပါအဝင်) |

ငွေလဲလှယ်နှုန်းအနေဖြင့် အမေရိကန်တစ်ဒေါ်လာလျှင် ကျပ် ၁,၅၀၀ဖြင့် ဖော်ပြထားပါသည်။

၅။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း ၅၈ ဦး၊ ပြည်ပဝန်ထမ်း ၂ ဦးခန့်ထား မည်ဖြစ်ပြီး ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၅၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၆၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်းတစ်ဦး၏ လစာမှာ အမေရိကန်ဒေါ်လာ ၁၅၀၀ ဖြစ်ပါသည်။

၆။ အဆိုပြုလုပ်ငန်းမှ ထုတ်လုပ်သော Single Malt Whiskey ကို ပြည်ပ ၉၀%၊ ပြည်တွင်း ၁၀% ရောင်းချမည် ဖြစ်ပါသည်။ ပထမနှစ်၏ ထုတ်လုပ်မှုနှင့်ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| ပစ္စည်းအမျိုးအစား | အရေအတွက် | ရောင်းချမည့်ဈေးနှုန်း |
|---|---|---|
| Single Malt Whiskey (ပြည်ပတင်ပို့ ၉၀%) (Barrel-200 liter) | ၄,၃၂၀ (drum) | ၁,၅၀၀ US$/drum |
| Single Malt Whiskey (ပြည်တွင်းရောင်း ၁၀%) (one liter) | ၉၆,၀၀၀ (bottle) | ၁၁,၀၀၀ ကျပ်/bottle |

၇။ အဆိုပြုလုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည် -

(က) **ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာန** မှ အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာန၊ ရှမ်းပြည်နယ်၏ သဘောထားမှတ်ချက်အရ ရေးဆွဲပြီးဖြစ်သည့် လုပ်ငန်း ဆောင်ရွက်မည့်အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်(Environmental Management Plan-EMP)ကို လက်ရှိအဆင့်မြင့်တင် တိုးချဲ့ဆောင်ရွက်မည့်စနစ်နှင့်အညီ ပြင်ဆင် ဖြည့်စွက်၍ ပြန်လည်အစီရင်ခံ တင်ပြရမည် ဖြစ်ကြောင်း သဘောထား ပြန်ကြားခဲ့ပါသည်။ **နောက်ဆက်တွဲ-က**

(ခ) ရှမ်းပြည်နယ်အစိုးရအဖွဲ့ မှ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ကန့်ကွက်ရန် မရှိကြောင်း သဘောထားပြန်ကြားလာပါသည်။ **နောက်ဆက်တွဲ-ခ**

၈။ ငွေရေးကြေးရေး အထောက်အထားအဖြစ် ဦးတင်ဝင်းအမည်ဖြင့် မြန်မာနိုင်ငံ၊ KBZ ဘဏ် တွင် ၈-၁-၂၀၁၉ ရက်စွဲ ဖြင့် ကျပ် ၈၇,၂၆၀,၃၂၉.၀၆ ရှိကြောင်း တင်ပြထားပါသည်။

၉။ **စိစစ်တင်ပြချက်**

(က) ကျားမင်းကြီး ကုမ္ပဏီလီမိတက် (Kyar Min Gyi Company Limited) သည် ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Single Malt Whiskey အရက် ချက် စက်ရုံ ဆောက်လုပ်၍ ရင်းနှီးမြှုပ်နှံခွင့်ပြုရန် တင်ပြလာရာ မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှုကော်မရှင် ၂၀၁၉ ခုနှစ် ဇန်နဝါရီလ ၁၁ ရက်နေ့တွင် ကျင်းပသော (၁/၂၀၁၉) ကြိမ်မြောက် အစည်းအဝေးမှ မူအားဖြင့် သဘောတူသဖြင့် အဆိုပြု လျှောက်ထားလွှာ တင်ပြနိုင်ကြောင်းဆုံးဖြတ်ခဲ့ပါသည်။ **နောက်ဆက်တွဲ-ဂ**

(ခ) မြေအထောက်အထားအဖြစ် ကျားမင်းကြီး ကုမ္ပဏီလီမိတက် (Kyar Min Gyi Company Limited) မှ အုပ်ချုပ်မှု ဒါရိုက်တာ ဦးတင်ဝင်းအမည်ဖြင့် မြေစာရင်း ပုံစံ-၁၀၅ နှင့် လယ်ယာမြေကို သတ်မှတ်သည့် နည်းလမ်းအတိုင်း အသုံးချရန် ဆင့်ဆို သောအမိန့်ကို တင်ပြထားပါသည်။

(ဂ) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပြန်ထားသည့် အမိန့်ကြော်ငြာစာ အမှတ်(၁၃/၂၀၁၇) အရ ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍ သတ်မှတ် ခြင်းတွင် မပါဝင်သဖြင့် ဝင်ငွေခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များအား ပေးရန် မလို ကြောင်းနှင့် လုပ်ငန်း အမျိုးအစားအနေဖြင့် အမိန့်ကြော်ငြာစာ အမှတ် (၅၁/၂၀၁၄) အရ အကောက်ခွန်ကင်းလွတ်ခွင့်၊ သက်သာခွင့်နှင့် ကုန်သွယ် လုပ်ငန်းခွန် ကင်းလွတ်ခွင့်၊ သက်သာခွင့်မပေးသော အုပ်စုများတွင် ပါဝင် ကြောင်း စိစစ်တင်ပြအပ်ပါသည်။

(ဃ) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာ ဌာနခွဲမှ ကော်မရှင် အတည်ပြုမိန့် နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့် ညီညွတ်မှု ရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၀။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် ကျားမင်းကြီးကုမ္ပဏီလီမိတက် (Kyar Min Gyi Company Limited) မှ ဦးပိုင်အမှတ်၂/၁၃၄၅၊ ကွင်းအမှတ် ၇၅/၁၊ တောင်ခြေ အနောက်ကွင်း၊ ဦးပိုင်အမှတ်(၁၄၁၀၆)၊ ကွင်းအမှတ်၂၆၅၊ လှိုင်ကော်တောင်ကွင်း၊ တောင်လေးလုံး ကျေးရွာအုပ်စု၊ တောင်ကြီးမြို့နယ်၊ တောင်ကြီးခရိုင်၊ ရှမ်းပြည်နယ် တောင်ပိုင်းရှိ စုစုပေါင်းမြေ ဧရိယာ ၂၀.၉၅ ဧက (၈၄၇၈၀.၇၁၇ စတုရန်းမီတာ) တွင် Single Malt Whiskey အရက် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်း ကိစ္စနှင့်စပ်လျဉ်း၍ အတည်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ (ကိုယ်စား)
(သန့်စင်လွင်၊ ခေတ္တအတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

နောက်ဆက်တွဲ - က

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC (OSS)/ ၀၁(၂၆/၁၈)
ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ ဧပြီလ ၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **ကျားမင်းကြီးကုမ္ပဏီလီမိတက် မှ Single Malt Whisky ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၆-၃-၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက- ၂/ အ-၀၄၁/ ၂၀၁၉(၀၈၄)

(၂) သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၏ (၁၂-၁၁-၂၀၁၈) ရက်စွဲပါစာအမှတ်၊ အီးအိုင်အေ-၁/၄က(၁၇၃၆/၂၀၁၈)

၁။ ရခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင်ကျားမင်းကြီးကုမ္ပဏီလီမိတက် (Kyar Min Gyi Company Limited) မှ ဦးပိုင်အမှတ်- ၂/၁၊၃၊၄၊၅၊ ကွင်းအမှတ်- ၇၅/၁၊ တောင်ခြေအနောက်ကွင်း၊ ဦးပိုင်အမှတ်- ၁၄၊ ၁၆၊ ကွင်းအမှတ်- ၂၆၅၊ လွိုင်ကော်တောင်ကွင်း၊ တောင်လေးလုံးကျေးရွာအုပ်စု၊ တောင်ကြီးမြို့နယ်၊ တောင်ကြီးမြို့၊ ရှမ်းပြည်နယ်တောင်ပိုင်းရှိ စုစုပေါင်းမြေဧရိယာ ၂၀.၉၅ ဧက (၈၄,၇၈၁.၇၂ စတုရန်းမီတာ) ကို ငှားရမ်း၍ Single Malt Whisky အရက်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာအဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကို လေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လာသော အဆိုပြုလွှာတွင် ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာ (၅၀) နှစ်ဖြစ်ပြီး၊ သက်တမ်းတိုး (၁၀) နှစ် (၂) ကြိမ် ဆောင်ရွက်မည်ဖြစ်ကာ၊ တည်ဆောက်ပြင်ဆင်ရေးကာလမှာ (၂) နှစ် ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းအား မြေ (၈၄,၇၈၁.၇၂ စတုရန်းမီတာ) ပေါ်ယခင်ရှိနှင့်ပြီး (၃၅မီတာx၂၅မီတာx၁၀မီတာ) အကျယ်ရှိ အရက်ချက်လုပ်ငန်း ဆောင်ရွက်လျက်ရှိသည့် အဆောက်အဦကိုအသုံးပြုကာ စက်ပစ္စည်းများ အဆင့်မြှင့်တိုးချဲ့တပ်ဆင်၍ လုပ်ငန်းဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊

(ဂ) ထုတ်လုပ်မှုအနေဖြင့်တစ်ရက်လျှင်ကုန်ချော Single Malt Whisky (one liter) ၉၆,၀၀၀ ခန့်ကို ပြည်တွင်း၊ Sigle Malt Whisky (Barrel-200 liter) ၄,၃၂၀ ခန့်ကို ပြည်ပသို့အသီးသီးထုတ်လုပ် ရောင်းချသွားမည် ဖြစ်ကြောင်း၊

၅။ သို့ဖြစ်ပါ၍ ကျားမင်းကြီးကုမ္ပဏီလီမိတက် (Kyar Min Gyi Company Limited) မှ Single Malt Whisky အရက်ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအားအသုံးပြုရန်နှင့် အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက်အသားတင် အမြတ်ငွေ၏ ၂% ကိုအသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များ ကိုတိတိကျကျ လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရှမ်းပြည်နယ်၏ သဘောထားမှတ်ချက်အရ ရေးဆွဲပြီးဖြစ်သည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)** ကို လက်ရှိ အဆင့်မြင့်တင် တိုးချဲ့ဆောင်ရွက်မည့် စနစ်နှင့်အညီ ပြင်ဆင်ဖြည့်စွက်၍ ပြန်လည်အစီရင်ခံ တင်ပြနိုင်ရေး စီစဉ်ဆောင်ရွက်ရန်၊

(ဂ) လုပ်ငန်းများဆောင်ရွက်ရာတွင် စီမံခန့်ခွဲမှု အစီအစဉ်ပါအတိုင်း လိုက်နာဆောင်ရွက်ရန် နှင့် သက်ဆိုင်ရာ ပြည်နယ်အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများကိုလည်း ရယူ ဆောင်ရွက်ရန်၊

၈/၅/၁၉

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်(ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရှမ်းပြည်နယ်
ရုံးလက်ခံ

MIC, 227/217

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပြည်နယ်အစိုးရအဖွဲ့
ရှမ်းပြည်နယ်

စာအမှတ်၊ ၈၃၃၄ / ၇ - ၂၁၆ / အစရ (ရှမ်း)
ရက် စွဲ ၊ ၂၀၁၉ခုနှစ်၊ ဇွန်လ ၂၅ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

အကြောင်းအရာ။ **သဘောထားမှတ်ချက်တင်ပြခြင်း**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၆-၃-၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက -၂/ အ-၀၄၁/၂၀၁၉ (၀၈၆)

၁။ ရခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် ကျားမင်းကြီးကုမ္ပဏီလီမိတက် (Kyar Min Gyi Company Limited )မှ တောင်ကြီးခရိုင်၊ တောင်ကြီးမြို့နယ်၊ တောင်လေးလုံးကျေးရွာအုပ်စု၊ ကွင်းအမှတ်နှင့် အမည်(၇၅/၁/ တောင်ခြေအနောက်ကွင်း) ၊ ဦးပိုင်အမှတ်၊(၂/၁၊ ၃၊ ၄၊ ၅)နှင့် ကွင်းအမှတ်နှင့်အမည်(၂၆၅/ လွိုင်ကော်တောင်ကွင်း)၊ ဦးပိုင်အမှတ်(၁၄၊ ၁၆)ရှိ စုစုပေါင်း မြေဧရိယာ(၂၀.၉၅)ဧက(၈၄၇၈၁.၇၁၇ စတုရန်းမီတာ)တွင် Single Malt Whisky အရက်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ Kyar Min Gyi Company Limited မှ အဆိုပြုတင်ပြလာခြင်းအပေါ်အောက်ပါအချက်များနှင့်ပတ်သက်၍ ရှမ်းပြည်နယ်အစိုးရအဖွဲ့၏ သဘောထားမှတ်ချက်အား ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်း(၁)ပါစာဖြင့် ညှိနှိုင်းလာပါသည်-

2-0938
28.6.19

(က) ရင်းနှီးမြှုပ်နှံမှုပြုမည့်နေရာသည် Single Malt Whisky အရက်ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းဆောင်ရွက်နိုင်မှု ရှိ/မရှိ။

(ခ) မြို့နယ်ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်/မဖြစ်။

(ဂ) ဖော်ပြပါမြေနေရာ၌ အဆိုပြုလုပ်ငန်းလုပ်ကိုင်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိ/မရှိ။

(ဃ) အဆိုပြုလုပ်ငန်းဆောင်ရွက်နိုင်သည့်မြေနေရာ ဟုတ်/ မဟုတ်။

(င) ရှမ်းပြည်နယ်အစိုးရအဖွဲ့၏ သုံးသပ်အကြံပြုချက်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ တောင်ကြီးခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာနမှ အောက်ပါအတိုင်းစိစစ်တင်ပြလာပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုပြုမည့်နေရာသည် Single Malt Whisky အရက်ထုတ်လုပ်

ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်နိုင်မှု ရှိ/မရှိနှင့်ပတ်သက်၍ တောင်ကြီးမြို့နယ်၊ တောင်လေးလုံး ကျေးရွာအုပ်စု၊ ဖက်နမ်ရွာရှိ ကျားမင်းကြီးအရက်ချက်စက်ရုံသည် (Waste Water Treatment System) အငွေ့ပျံနည်းစဉ်ဖြင့် ရေဆိုးပြန်လည်သန့်စင်စနစ်ကို တည်ဆောက်ပြီး ရေဆိုးစွန့်ပစ်ရေ စွန့်ထုတ်မှုလုံးဝမရှိသည့်(Zero Liquid Dicharge) စနစ်(Stand Alone Mulitiple Effect Evaporator Plant)အား တပ်ဆင်ဆောင်ရွက်ပြီးစီး၍လည်းကောင်း၊ စွန့်ပစ်ရည် အရည်အသွေးအား အချိန်နှင့်တပြေးညီ တိုင်းတာ စောင့်ကြပ်ကြည့်ရှုသည့်စနစ်(Real Time Waste Water Online Monitoring System) တပ်ဆင် ဆောင်ရွက်ပြီးစီးနေ၍ လည်းကောင်း Single Malt Whisky အရက်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား ခွင့်ပြုမည်ဆိုပါက ဆောင်ရွက်နိုင်ပါကြောင်း၊

( ခ ) မြို့နယ်ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက်အထောက်အကူဖြစ်/မဖြစ်နှင့်ပတ်သက်၍အဆိုပါစက်ရုံတွင် အင်ဂျင်နီယာပညာရှင်မှအပ စက်ရုံအလုပ်သမားများကို တောင်လေးလုံးကျေးရွာအုပ်စု အတွင်းရှိ ဖက်နမ်ရွာ (၁၅)ဦး၊ ကင်တုန်ရွာ(၁၀)ဦး၊ တောင်လေးလုံးရွာ(၁၀)ဦး၊ တာယောရပ်ကွက်(၅)ဦး၊ ကုန်းမို့(၁၀)ဦး၊ ဟဲကယ်(၅)ဦးနှင့် အနီးအနားကျေးရွာအုပ်စုများရှိ ဒေသခံများအား ဦးစားပေးခန့်ထား ဆောင်ရွက်နေသည့်အတွက် မြို့နယ်ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်ပါကြောင်း၊

( ဂ ) ဖော်ပြပါမြေနေရာသည်အဆိုပြုလုပ်ငန်းလုပ်ကိုင်ခြင်းအပေါ် ၂၁-၃-၂၀၁၉ ရက်နေ့ ဒေသခံလွယ်မင်းစင်ကျောင်းထိုင်ဆရာတော်၊ ပြည်နယ်လွှတ်တော်ကိုယ်စားလှယ်၊ ခရိုင်အုပ်ချုပ်ရေးမှူး၊ပြည်နယ်ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနကိုယ်စားလှယ် ပြည်နယ်ကျန်းမာရေးဦးစီးဌာန ကိုယ်စားလှယ်၊ ခရိုင်စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန တာဝန်ခံ၊ တောင်ကြီးမြို့နယ်အုပ်ချုပ်ချုပ်ရေးမှူး၊ မြို့နယ်စိုက်ပျိုးရေးဦးစီးဌာနတို့မှ တာဝန်ရှိသူများနှင့် ကျေးရွာအုပ်စုအုပ်ချုပ်ရေးမှူး၊ ဒေသခံပြည်သူလူထုများနှင့်CSOများ တွေ့ဆုံရာ၌ ဒေသခံ လွယ်မင်းစင်ဆရာတော်ဘုရား မှ ဩဝါဒ မြွက်ကြားရာတွင် ဒေသခံများ ထိခိုက်နစ်နာမှုမရှိလျှင် ကန့်ကွက်ရန်မရှိပါကြောင်း၊ စက်ရုံမှ ရေဆိုးနှင့်အနံ့ နံ့ခြင်းများ မရှိအောင် စက်များအဆင့်မြှင့်တင်ထားသည့်အတွက် ကျေနပ်မှုရှိပါကြောင်းကိုလည်းကောင်း၊ တောင်သူများဖြစ်သော ဦးဝင်းမောင်နှင့် ဦးဆောင်းတို့မှ မိမိတို့ ဟင်းသီးဟင်းရွက်စိုက်ပျိုးခြင်းနှင့် ရာသီပင်များထိခိုက်မှုနည်းနိုင်သမျှနည်းအောင် စက်ရုံမှတာဝန်ယူဆောင်ရွက်ပေးစေလိုကြောင်း၊

စက်ရုံကြောင့် သီးနှံများပျက်စီးလျှင် လျော်ကြေးများလျော်ပေးနိုင်ရန်အတွက် ကတိများလိုအပ်ပါကြောင်း၊ဖက်နမ်ကျေးရွာနေဒေါ်ပန်းနုမှစက်ရုံအနီးပတ်ဝန်းကျင်ရှိ ရွာများမှ ကလေးများ၏ ကျန်းမာရေးဆေးစစ်ဆေးဆောင်ရွက်ပေးစေလိုကြောင်း၊ တောင်လေးလုံး ကျေးရွာအုပ်စုအုပ်ချုပ်ရေးမှူးနှင့် ဖက်နမ်ကျေးရွာရာအိမ်မှူးတို့မှ စက်ရုံမှ စံချိန်စံညွှန်း ပြည့်မီစွာဆောင်ရွက်ထား၍ လက်ရှိအခြေအနေစမ်းသပ် လည်ပတ်ရာတွင် အနံ့နံခြင်း မရှိတော့ကြောင်း ရေဆိုးပြန်လည်သန့်စင် ထုတ်လုပ်နေမှုကို တွေ့ရှိရပါကြောင်း၊ အသီးသီး လက်ခံတင်ပြကြပါသည်၊ ကျားမင်းကြီး အရက်ချက်စက်ရုံအနီး ပတ်ဝန်းကျင်ရှိ ရေများအား ပြည်နယ် စိုက်ပျိုးရေးဦးစီးဌာနနှင့် တောင်ကြီးတက္ကသိုလ်ရှိ ဓာတုဗေဒဌာနတို့တွင် ဓာတ်ခွဲ စမ်းသပ်ခဲ့ရာတွင် ကောင်းမွန်ကြောင်း အောက်ပါ အတိုင်း တွေ့ရှိရပါသည်-

(၁) ရေတွင်း PH (Slightly alkaline) အယ်ကာလိုင်းအနည်းငယ်သာ ပါဝင်မှုရှိခြင်း၊

(၂) EC ရေတွင်းပျော်ဝင်ဆားအလယ်အလတ်သာပါဝင်ခြင်း၊

(၃) TDS ရေထဲစုပေါင်းပျော်ဝင်နေသည့် အစိုင်အခဲအလယ်အလတ်အဆင့်ရှိခြင်း၊

(၄) SAR ဆားစုပ်ယူသည့် အချိုးကောင်းမွန်ခြင်း၊

(၅) RSC ဆိုဒီယမ်ဓာတ်ကြွင်းမရှိကောင်းမွန်ခြင်း၊

(၆) Dorminant Salts Ca (HCO3)2 (တည်ရှိနေသည့် ဆားဓာတ်)ပါဝင်မှု ကောင်းမွန် သည့်ရလဒ်များ ရရှိခြင်း၊

မြေဆီလွှာစစ်ဆေးမှုနှင့်ပတ်သက်၍ ကျားမင်းကြီး အရည်ချက်စက်ရုံအနီး ပတ်ဝန်းရှိ တောင်သူများဖြစ်သော ဦးအေးမောင်၊ ဦးပွင့်၊ ဦးဘစိန်၊ ဦးတင်မောင်၊ ဦးစံဖဲ၊ ဦးဇော်ဝင်း၊ ဦးခင်မောင်ဝင်း၊ ဒေါ်ငြိမ်းနွယ်၊ ဒေါ်စမ်းတင်အေးတို့၏ စိုက်ပျိုးမြေများအား ပြည်နယ်စိုက်ပျိုးရေးဦးစီးဌာန၊ မြေဆီလွှာစမ်းသပ်ဌာနသို့ ပေးပို့ဓာတ်ခွဲစမ်းသပ်ခဲ့ရာကောင်းမွန်ကြောင်း အောက်ပါအတိုင်း တွေ့ရှိရပါသည်-

(၁) လယ်မြေများတွင် PH (Soil:water 1:2.5) Moderatelyalkaline အင်ဓာတ် အသင့်အတင့်ရှိခြင်း၊

(၂) EC (မြေကြီးထဲပျော်ဝင်ဆားမှာ မြင့်မားနေသော်လည်း ရေသွင်းရေထုတ် ပြုလုပ်ရာတွင် ရေ၌ ပျော်ဝင်သွားမည်ဖြစ်ခြင်း၊

(၃) Organic carbon သဘာဝအဆွေးဓာတ်မှာ အကောင်းဆုံး အနေအထားတွင် ပါဝင်ခြင်း၊

(၄) မြေတွင်းနိုက်ထရိုဂျင်ဓာတ်မှာ ကောင်းမွန်စွာ ပါဝင်မှုရှိနေခြင်း၊

(၅) Total N(Iron) သံဓာတ်ပါဝင်မှုရလဒ် ကောင်းမွန်ခြင်း၊

(ဖ) P (ဖော့စဖိုက်ခာတ်)ပါဝင်မှုမှာ ကောင်းမွန်ခြင်း စသည့်ကောင်းမွန်သည့် ရလဒ် ရရှိခြင်း၊

(ဃ) အဆိုပြုလုပ်ငန်းများဆောင်ရွက်မည့် ရင်းနှီးမြှုပ်နှံမှုပြုမည့်နေရာသည် တောင်ကြီးခရိုင်၊ တောင်ကြီးမြို့နယ်၊ တောင်လေးလုံးကျေးရွာအုပ်စု၊ ဖက်နမ်ကျေးရွာ၊ ကွင်းအမှတ်နှင့် အမည်(၇၅/၁/တောင်ခြေအနောက်ကွင်း)၊ ဦးပိုင်အမှတ်(၂/၁၊ ၃၊ ၄၊ ၅ )နှင့် ကွင်းအမှတ်နှင့် အမည်(၂၆၅/ လွိုင်ကော်တောင်ကွင်း)၊ ဦးပိုင်အမှတ်၊ (၁၄၊ ၁၆)ရှိ စုစုပေါင်း မြေဧရိယာ(၂၀.၉၅)ဧက(၈၄၇၈၁.၇၁၇ စတုရန်းမီတာ) ကျယ်ဝန်းပြီး ရှမ်းပြည်နယ်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ၏ (၂၂-၂-၂၀၁၁) ရက်စွဲပါ စာအမှတ်၊ ၄ / ၃၅ - ၄ / ဦး ၆ ဖြင့် စားသောက်ကုန်၊ စက်ရုံမြေအဖြစ် အသုံးပြုရန် လယ်ယာမြေ အခြားနည်း အသုံးပြုခွင့်ရရှိထားသောကြောင့် အဆိုပြုလုပ်ငန်း ဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပါကြောင်း၊

၃။ သို့ဖြစ်ပါ၍ တောင်ကြီးခရိုင်၊ တောင်ကြီးမြို့နယ်၊ တောင်လေးလုံး ကျေးရွာအုပ်စု၊ ကွင်းအမှတ်နှင့် အမည်(၇၅/၁/ တောင်ခြေအနောက်ကွင်း) ၊ ဦးပိုင်အမှတ်၊(၂/၁၊ ၃၊ ၄၊ ၅)နှင့် ကွင်းအမှတ်နှင့်အမည် (၂၆၅/ လွိုင်ကော်တောင်ကွင်း)၊ ဦးပိုင်အမှတ်(၁၄၊ ၁၆)ရှိ စုစုပေါင်း မြေဧရိယာ(၂၀.၉၅)ဧက(၈၄၇၈၁.၇၁၇စတုရန်းမီတာ)တွင် Single Malt Whisky အရက်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် Kyar Min Gyi Company Limited မှ အဆိုပြုတင်ပြလာခြင်းနှင့်ပတ်သက်၍ ၂၀-၆-၂၀၁၉ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ရှမ်းပြည်နယ်အစိုးရအဖွဲ့၊ ပုံမှန်အစည်းအဝေးအမှတ်စဉ်(၂-၆/၂၀၁၉) ဆုံးဖြတ်ချက် အပိုဒ် ၅(တ) အရ တည်ဆဲဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများအတိုင်း ဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန် မရှိပါကြောင်း တင်ပြအပ်ပါသည်။

ပြည်နယ်ဝန်ကြီးချုပ်( ကာ )
( စိုးညွှန့်လွင်၊ စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီး)

မိတ္တူကို
ကျားမင်းကြီးကုမ္ပဏီလီမိတက်
ရုံးလက်ခံ
မျှော်စာတွဲ

Chaw 381/19

နောက်ဆက်တွဲ-ဂ


ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

☎ ၀၁- ၆၅၈၁၂၇
🖷 ၀၁- ၆၅၈၁၃၆


စာအမှတ် ၊ မရက-၂/အထွေထွေ/၂၀၁၉( ၀၁၄ )
ရက်စွဲ ၊ ၂၀၁၉ ခုနှစ် ဇန်နဝါရီလ ၁၅ ရက်

အကြောင်းအရာ။ ကျားမင်းကြီးကုမ္ပဏီလီမိတက်မှ ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှု ဖြင့် Single Malt အရက်ထုတ်လုပ်သည့် လုပ်ငန်းဆောင်ရွက်ခွင့် တင်ပြလာခြင်းကိစ္စ

ရည် ညွှန်း ချက်။ ကျားမင်းကြီးကုမ္ပဏီလီမိတက်၏ (၁၄-၁၂-၂၀၁၈) ရက်စွဲပါစာ

၁။ ကျားမင်းကြီးကုမ္ပဏီလီမိတက်မှ ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Single Malt အရက်ချက်စက်ရုံ ဆောက်လုပ်၍ ရင်းနှီးမြှုပ်နှံခွင့်ပြုပါရန် ရည်ညွှန်းပါစာဖြင့် တင်ပြလာခြင်းအား ၂၀၁၉ ခုနှစ် ဇန်နဝါရီလ ၁၁ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် (၁/၂၀၁၉) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၂။ အဆိုပါတင်ပြချက်နှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် အစည်းအဝေးမှ မူအားဖြင့် သဘောတူပါသဖြင့် အဆိုပြုလွှာကိုတင်ပြ အဆိုပြုလွှာကိုထားလွှာ တင်ပြနိုင်ပါကြောင်း အကြောင်းကြားပါသည်။

ဉက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

ကျားမင်းကြီးကုမ္ပဏီလီမိတက်

မိတ္တူကို

ရုံးလက်ခံ/ မျှောစာတွဲ